၄။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း (၉၉)ဦး ခန့်ထားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ ပြည်တွင်း အနိမ့်ဆုံးဝန်ထမ်း(၁)ဦး၏ လစာမှာ ကျပ် ၁၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး ဝန်ထမ်း (၁)ဦး၏ လစာမှာ ကျပ်၁,၂၀၀,၀၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ်(၆)နှစ်မြောက်တွင် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်မှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အခန်း အရေအတွက် | ဝန်ဆောင်ခနှုန်း (တစ်ရက်) | |
|---|---|---|---|---|
| | | | US$ | ညီမျှသော ကျပ် |
| (က) | 2 Bed Room, Pool Villa | ၃ | ၅၂၅ | ၅၀၄၀၀၀ |
| (ခ) | 1 Bed Room, Pool Villa | ၁၄ | ၄၂၀ | ၄၀၃၂၀၀ |
| (ဂ) | 1 Bed Room, Villa | ၆၄ | ၂၈၀ | ၂၆၈၈၀၀ |
| (ဃ) | Deluxe | ၄၀ | ၁၄၀ | ၁၃၄၄၀၀ |
| (င) | Superior | ၈၀ | ၁၀၅ | ၁၀၀၈၀၀ |
| | စုစုပေါင်း | ၂၀၁ | | |

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

**အမေရိကန်တစ်ဒေါ်လာ=၉၆၀ ကျပ်**

| စဉ် | အကြောင်းအရာ | US$ (သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေ (သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|---|---|
| (က) | ဝင်ငွေ | ၄.၉၅၈ | ၄၇၅၉.၉၆၅ | ၄၇၅၉.၉၆၅ | ၉၅၁၉.၉၃၀ |
| (ခ) | အသုံးစရိတ် | ၂.၆၀၃ | ၂၄၉၉.၄၀၀ | ၃၆၀၁.၆၄၉ | ၆၁၀၁.၀၄၉ |
| (ဂ) | အသားတင်အမြတ် | ၂.၃၅၅ | ၂၂၆၀.၅၆၅ | ၁၁၅၈.၃၁၆ | ၃၄၁၈.၈၈၁ |

၇။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ်လုပ်ငန်းခွန် ကျပ် (၄၅၃.၃၃)သန်းနှင့် ဝင်ငွေခွန် ကျပ် (၁၁၃၉.၆၃)သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၆)နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR) မှာ ၁၁.၂၈ ရာခိုင်နှုန်း ဖြစ်ပါသည်။

၈။ ယင်းအဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး** **(နောက်ဆက်တွဲ-က)**

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးမှ ကန့်ကွက်ရန် မရှိပါကြောင်းထောက်ခံတင်ပြထားပါသည်။

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ)**

(၁) ကြယ်ငါးပွင့်အဆင့်မီ ဟိုတယ်တည်ဆောက်ခြင်းကို Eco-Friendly အဖြစ် ဖွံ့ဖြိုးတိုးတက်လာစေရေးအတွက် ရေတို၊ရေရှည်ဆောင်ရွက်ရန် နည်းလမ်းများ ပါဝင်သည့် စီမံကိန်းများနှင့် အစီအမံများ ရေးဆွဲချမှတ် ဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းရှိ ခြံ၊ မြေ၊ အဆောက်အအုံ၊ မိလ္လာပိုက်၊ ရေဆိုးစွန့်ထုတ်သည့် ပိုက်များအတွင်းမှ အများပြည်သူတို့၏ ကျန်းမာရေးကို ထိခိုက်စေနိုင်သော အညစ်အကြေး သို့မဟုတ် အနံ့ဆိုးထွက်စေသောအရာကို စီးထွက်စေခြင်း၊ စိမ့်ထွက်စေခြင်း သို့မဟုတ် စွန့်ပစ်ခြင်းမပြုရန်။

(၃) ဝန်ဆောင်မှုလုပ်ငန်းမှ ထွက်ရှိလာသော စွန့်ပစ်ပစ္စည်းများအား လျော့နည်းသထက် လျော့နည်းအောင် လျော့ချသောနည်းလမ်း (Reduce)၊ စွန့်ပစ်လိုက်သည့် အမှိုက်များမှ စွန့်ပစ်ပစ္စည်းအချို့အား ပြန်လည်အသုံးပြုသော နည်းလမ်း (Reuse)နှင့် ပြန်လည် အသုံးပြု၍ရသည့် ပစ္စည်းများအား မူလပုံစံအတိုင်း သို့မဟုတ် နောက်ထပ်ပစ္စည်း ပုံစံအသစ်တစ်မျိုးအဖြစ်ပြန်လည် ပြုပြင်သုံးစွဲသော နည်းလမ်း(Recycle)များ အသုံးပြု၍ နေ့စဥ်ထွက်ရှိနေသည့် အမှိုက်ပမာဏ လျော့နည်းလာစေရေးအတွက် စီမံချက် ရေးဆွဲဆောင်ရွက်ရန်။

(၄) ပတ်ဝန်းကျင် ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း(Environmental Impact Assessment - EIA) ကို ဆောင်ရွက်ပြီးမှသာ စိစစ်ခွင့်ပြုရန်။

(၅) အထက်ပါလေ့လာဆန်းစစ်မှု ရလာဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည်များစီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုစီမံချက် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၆) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးထုပ်နည်းများ၊ညွှန်ကြားချက်များ၊စည်ပင်သာယာရေးဥပဒေ၊နည်းဥပဒေ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရန်။

(၇) သက်ဆိုင်ရာ တိုင်းဒေသကြီး/ပြည်နယ်အစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

**(ကုမ္ပဏီမှ အထက်ပါ သဘောထား မှတ်ချက်နှင့်အညီ ပတ်ဝန်းကျင် ထိန်းသိမ်းရေးအတွက် ကနဦး ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်လေ့လာခြင်း EIAနှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုစီမံချက် EMP အစီရင်ခံစာတို့အား Green Myanmar Environmental Services Co., Ltd. မှ Third Party အနေဖြင့် ဆောင်ရွက်၍ ရေးဆွဲရန်ညှိနှိုင်းနေပါကြောင်း(၈-၉-၂၀၁၄)ရက်စွဲပါစာဖြင့်တင်ပြထားပါသည်။)**

(ဂ) **ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ဂ)**

(၁) အခန်းခန့်နှုန်းထားများတွင် 2 Bed Room, Pool Villa (၁)ခန်းလျှင် US$ (၅၂၅) (သို့မဟုတ်) မြန်မာငွေကျပ်အနေနှင့် (၅၀၄၀၀၀)၊ 1 Bed Room, Pool Villa (၁)ခန်းလျှင် US$ (၄၂၀) (သို့မဟုတ်) မြန်မာငွေကျပ်အနေနှင့် (၄၀၃၂၀၀)၊ 1 Bed Room Villa (၁)ခန်းလျှင် US$ (၂၈၀) (သို့မဟုတ်) မြန်မာ ငွေကျပ် အနေနှင့် (၂၆၈၈၀၀)၊ Deluxe (၁)ခန်းလျှင် US$ (၁၄၀) (သို့မဟုတ်) မြန်မာ ငွေကျပ် အနေနှင့် (၁၃၄၄၀၀)၊ Superior (၁)ခန်းလျှင် US$ (၁၀၅) (သို့မဟုတ်) မြန်မာငွေကျပ်အနေနှင့် (၁၀၀၈၀၀) စသည်ဖြင့် နှုန်းများ သတ်မှတ်ကောက်ခံမည့် ငှားရမ်းခနှုန်းထားမြင့်မားသည့်အတွက် ဈေးကွက်အခြေအနေကို သုံးသပ်ခြင်း၊အသုံးပြုသည့်ပစ္စည်းများနှင့်ဝန်ဆောင်မှုများသည် လျော်ကန်သင့်မြတ်ခြင်းတို့ ဖြစ်ရန်လိုအပ်ပါကြောင်း။

(၂) ယခု အဆိုပြုတင်ပြသော မြေနေရာသည် ကင်းလွတ်ဇရိယာဖြစ်သော်လည်း ပုဂံ၏ ပုံရိပ်မပျောက်ပျက်သော အဆောက်အအုံများ ဖြစ်ရန် လိုအပ်ပါကြောင်း။

(၃) Imperial Palace Hotel Co., Ltd. မှ ဆောင်ရွက်မည့် ဟိုတယ်လုပ်ငန်းအတွက်ပြည်ပမှတင်သွင်းမည့်ကုန်ပစ္စည်းများ၊မော်တော်ယာဉ်များ အပေါ် အခွန်သက်သာခွင့်မှာ ကော်မရှင် အဆုံးအဖြတ်သာ ရယူရမည်ဖြစ်ပါကြောင်း။

(၄) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုမိန့်ရရှိပြီးပါက ဟိုတယ်တည်ဆောက် ခွင့်ပြုမိန့်နှင့် လုပ်ငန်းလိုင်စင်များကို ဆက်လက် ရယူဆောင်ရွက်သွားရန် လိုအပ်ပါကြောင်း။

(ဃ) **ယဉ်ကျေးမှုဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ဃ)**

(၁) Imperial Palace Hotel Co., Ltd. က ငှားရမ်း၍ဟိုတယ်လုပ်ငန်းဆောင်ရွက်မြေနေရာသည် ဟိုတယ်ဇုန်(၄)ခုအတွင်းတည်ရှိပြီး ယဉ်ကျေးမှု အမွေအနှစ်ဒေသများကာကွယ်ထိန်းသိမ်းရေးဥပဒေ ပုဒ်မ(၄)အရ သတ်မှတ်ထားသော ပုဂံ

ယဥ်ကျေးမှု အမွေအနှစ် ဒေသဇုန်များနှင့် ကင်းလွတ်သည်ကို စိစစ်တွေ့ရှိ ရပါကြောင်း ။

(င) **မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း** **(နောက်ဆက်တွဲ-င)**

(၁) ပုဂံမြို့တွင် တည်ဆောက်မည့် Hotel တည်ဆောက်မှုတွင် သတ်မှတ်ထားသော စံချိန်စံနှုန်းနှင့်အညီ တည်ဆောက်ရန်နှင့်စံချိန်စံညွှန်းမီတည်ဆောက်ရေး ပစ္စည်းများအသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန်မရှိကြောင်း။

(၂) အဆောက်အဦပိုင်းတွင် ပြည်ပမှတင်သွင်းမည့် အောက်ပါ ဆောက်လုပ်ရေး ပစ္စည်းများနှင့် အရေအတွက်ကို ထောက်ခံပါကြောင်း-

| စဥ် | ပစ္စည်းအမျိုးအစား | MICစာအုပ်ပါ အရေအတွက် (Ton) | BQ တွင်ပါဝင်သော အရေအတွက် (Ton) | ထောက်ခံ တင်ပြသော အရေအတွက် (Ton) |
|---|---|---|---|---|
| (က) | ဘိလပ်မြေ | ၁၃၈၁၁.၃၅ | ၁၄၀၈၃.၁၉ | ၁၃၈၁၁.၃၅ |
| (ခ) | သံချောင်းလုံးရှယ်စုံ | ၃၆၁၇.၂၉ | ၃၇၀၄.၀၀ | ၃၆၁၇.၂၉ |

(၃) အဆိုပြုလုပ်ငန်း တင်ပြထားသော စီမံကိန်းအားစိစစ်ရာတွင် တင်ပြသောပုံစံ၊ ဒီဇိုင်းများသည် အမှန်တကယ်အသေးစိတ် တည်ဆောက်မည့် ပုံစံ၊ ဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည်ဆိုပါက ယခုတွက်ချက်ထားသော ပစ္စည်းအရေအတွက်များမှာ အမှန်တကယ်သုံးစွဲမည့် အရေအတွက်နှင့် ကွာခြားနိုင်သည့်အတွက် လိုအပ်ပါက ပြန်လည်စိစစ်မှုများ ဆောင်ရွက်ရန်လိုအပ်ပါကြောင်း။

(၄) သက်ဆိုင်ရာ မီးသတ်ဦးစီးဌာနမှ ချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်း လိုက်နာမည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း။

**(ကုမ္ပဏီမှ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏ ထောက်ခံချက်နှင့်အညီ ပြည်ပမှ တင်သွင်းမည့် ဆောက်လုပ်ရေးပစ္စည်းများကို ၁၇-၉-၂၀၁၄ ရက်နေ့ပါစာဖြင့် ပြင်ဆင် တင်ပြလာပါသည်။)**

၉။ ကျပ်ငွေ အထောက်အထားအဖြစ် မန်နေးဂျင်း ဒါရိုက်တာ ဦးဇော်ဘိုခန့် အမည်ဖြင့် CB Bank တွင်(၉-၆-၂၀၁၄) ရက်စွဲ ဖြင့် ကျပ် (၅၅၆၀.၁၄) သန်း နှင့် KBZ Bank (ကမာရွတ် ဘဏ်) တွင် (၁၉-၆-၂၀၁၄) ရက်စွဲ ဖြင့် ကျပ် (၁၂၂၈၄.၄၃) သန်း ရှိကြောင်း ဖော်ပြထားရာ သုံးစွဲမည့် ကျသင့်ငွေ ကျပ် (၂၀၄၃၅.၆၅) သန်း အတွက် ၈၇ % တင်ပြ ထားကြောင်း စိစစ်တွေ့ရှိရပါသည်။ နိုင်ငံခြားငွေ အထောက်အထားအဖြစ် Yar Za Htar Nee Co., Ltd. အမည်ဖြင့် Myanmar

Foreign Trade Bank တွင်(၁၃-၆-၂၀၁၄) ရက်စွဲဖြင့် US$(၂.၆၃)သန်း ရှိကြောင်း ဖော်ပြထားရာ သုံးစွဲမည့် နိုင်ငံခြားငွေ US$ (၉.၆၆) သန်း အတွက် ၂၇.၂၂ % ရှိကြောင်း စိစစ်တွေ့ရှိ ရပါသည်။

၁၀။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိပါကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ မီးဘေးကြိုတင် ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ ဟိုတယ်မှ ထွက်ရှိသော စွန့်ပစ်ပစ္စည်းများ ကို ဥပဒေလုပ်ထုံးလုပ်နည်းနှင့်အညီ စွန့်ပစ်သွားမည်ဖြစ်ပါကြောင်း၊ ဟိုတယ်နှင့် ခရီးသွားလာရေး ညွှန်ကြားမှု ဦးစီးဌာနတွင် မှတ်ပုံတင်ထားရှိမည်ဖြစ်ပါကြောင်း၊ ပြည်တွင်း၊ပြည်ပမှ ဝယ်ယူမည့် စက်ပစ္စည်းများသည် အသစ်များဖြစ်ပါကြောင်း ကုမ္ပဏီမှ ဝန်ခံကတိပြုထားပါသည်။

၁၁။ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းများ သက်သာချောင်ချိရေးအတွက် ဝန်ထမ်းများကို အကြို/အပို့ မော်တော်ယာဉ်များလည်း စီစဉ်ပေးထားခြင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် သန့်စင်ခန်းများ အမှိုက်ပုံးများထားရှိခြင်း၊ ဟိုတယ်ပတ်ဝန်းကျင် သန့်ရှင်းမှု ရှိစေရန်အတွက်ရေနုတ် မြောင်းများကို တည်ဆောက်၍ သန့်ရှင်းစင်ကြယ်မှု ရှိစေရန်ဆောင်ရွက်ပေးခြင်းနှင့် ဟိုတယ် အထပ်များတွင် လေဝင်လေထွက် ကောင်းစေရန် စီမံဆောင်ရွက်ပေးခြင်းတို့ကို ဆောင်ရွက်မည် ဖြစ်ပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၂။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို မြန်မာ့လျှပ်စစ်ဓာတ်အား လုပ်ငန်းမှရယူ၍ 1000 KVA Transformer သုံးစွဲမည်ဖြစ်ပြီး လျှပ်စစ်ဓါတ်အားမရရှိသည့်အချိန်တွင် ကိုယ်ပိုင် မီးစက်ဖြင့် လုပ်ငန်းလည်ပတ်သွားမည် ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၃။ **စိစစ်တင်ပြချက်**

(က) မြေပိုင်ရှင်ဦးလီမြင့် ပိုင်ဆိုင်သောမြေ(၁၀၃.၇၇)ဧကအနက်မှ အဆိုပြုလုပ်ငန်းအား မြေ(၅၅)ဧကအား (၁)ဧကလျှင်ကျပ်(၃၀၀,၀၀၀)နှုန်းဖြင့် ငှားရမ်းမည်ဖြစ်ပါသည်။

(ခ) ပြည်ပမှတင်သွင်းမည့် မော်တော်ယာဉ် စာရင်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အရေ အတွက် | ဈေးနှုန်း(US$) | တန်ဖိုး(US$) |
|---|---|---|---|---|
| ၁။ | Micro Bus (7-9 seaters) | ၅ | ၂၀,၀၀၀ | ၁၀၀,၀၀၀ |
| ၂။ | Mini Bus (20 seaters) | ၅ | ၂၅,၀၀၀ | ၁၂၅,၀၀၀ |
| ၃။ | Bus (40 seaters) | ၅ | ၄၀,၀၀၀ | ၂၀၀,၀၀၀ |
| ၄။ | Station Wagon | ၃ | ၇၀,၀၀၀ | ၂၁၀,၀၀၀ |
| | **စုစုပေါင်း** | ၁၈ | | **၆၃၅,၀၀၀** |

(ဂ) မော်တော်ယာဉ်တင်သွင်းခြင်း ကိစ္စနှင့်ပတ်သက်၍ အမိန့်ကြော်ငြာစာအမှတ် (၆/၂၀၁၄)(၃၀-၁-၂၀၁၄)ရက်စွဲဖြင့် အဆိုပြုလုပ်ငန်းအတွက်လုပ်ငန်းလိုအပ်ချက် အရတင်သွင်းမည့် လူစီးမော်တော်ယာဉ်များအား အခွန်အကောက်ပေးဆောင်၍ သာ တင်သွင်းခွင့် ပြုမည်ဖြစ်ကြောင်း မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပြန်ထားပါသည်။

(ဃ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ တည်ဆောက်ရေးလုပ်ငန်းများ ဆောင်ရွက်ရာတွင် Sub-contractor များသို့ လုပ်ငန်းအပ်နှံမှုများရှိပါက ၎င်း Contractor များကို ပေးချေရမည့် လုပ်အားခအပေါ်တွင် ကြိုတင်ခွန်အဖြစ် ၂% ကို ယူ၍ နိုင်ငံတော်သို့ ပေးဆောင်သွား မည်ဖြစ်ပါကြောင်း ကုမ္ပဏီမှ ဝန်ခံကတိပြုထားပါသည်။

(င) ကုမ္ပဏီမှ CSR (Corporate Social Responsibility)အတွက် Net Profit ၏ ၂% ကို သုံးစွဲရန်လျာထားပါကြောင်း တင်ပြထားပါသည်။

၁၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ပုဒ်မ ၂၀ပါ(က၊ဂ၊စ၊ဆ၊ဇ၊ည)အရ အခွန်အကောက်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၅။ Imperial Palace Hotel Co., Ltd. သည် မန္တလေးတိုင်းဒေသကြီး၊ ညောင်ဦးခရိုင်၊ ညောင်ဦးမြို့နယ်၊ ဂန့်ဂါကျေးရွာအုပ်စု ဟိုတယ်ဇုန်(၄)၊ ကွင်းအမှတ်(၁၅၅၈)၊ ဂင်္ဂါအနောက်၊ ဦးပိုင်အမှတ်-N-1၊ ၁၊၂၊၃၊၅၊၆၊၇၊၉၊၄/၁၄/၂၄/၃၊ ၈/၁၈/၂၈/၃)ရှိ မြေ(၅၅)ဧကကို ငှားရမ်းကာ ဘန်ဂလိုပုံစံကြယ်ငါးပွင့် အဆင့်ဟိုတယ်လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းကိစ္စအပေါ် ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြေသုဇာ၊တွဲဖက်အတွင်းရေးမှူး)

နောက်ဆက်တွဲ(က)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
မန္တလေးမြို့

စာအမှတ်၊ ၂/ ၄ - ၉/ ၂ ဦး ၆ ( ၂၀၆ )
ရက်စွဲ၊ ၂၀၁၄ခုနှစ်၊ အောက်တိုဘာလ ၁၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)
နေပြည်တော်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံသည့်ကိစ္စ**

ရည်ညွှန်းချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂.၇.၂၀၁၄)ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၁၄၃၀/၂၀၁၄ (၆၈၀၈)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၃.၇.၂၀၁၄)ရက်စွဲပါစာအမှတ်၊ ရက-၄/မ-၁၄၃၀/၂၀၁၄ (၀၀၇)

၁။ Imperial Palace Hotel Co.,Ltd က မန္တလေးတိုင်းဒေသကြီး၊ ညောင်ဦးခရိုင်၊ ပုဂံမြို့၊ ဂန့်ဂါရပ်ကွက်၊ ဟိုတယ်ဇုန်(၄)၊ ကွင်းအမှတ်(၁၅၅၈)၊ ဂန့်ဂါအနောက်ကွင်း၊ ဦးလှမြင့် အမည်ပေါက်လျက်ရှိသည့် မြေ(၁၀၃.၇၇)ဧက အနက်မှ ဦးပိုင်အမှတ်-(N-1၊၁၊၂၊၃၊၅၊၆၊၇၊၉၊ ၄/၁၊ ၄/၂၊၄/၃၊၈/၁၊၈/၂၊၈/၃)ရှိ မြေ(၅၅)ဧကကို ငှားရမ်းကာ ဘန်ဂလိုပုံစံ ကြယ်ငါးပွင့်အဆင့် ဟိုတယ် လုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီး မြှုပ်နှံသူ ဦးဇော်ဘိုခန့်(ဘ)ဦးမောင်မောင်ဇော်၏ အဆိုပြုတင်ပြခြင်းနှင့်စပ်လျဉ်း၍ တိုင်းဒေသကြီး အစိုးရအဖွဲ့၏ သဘောထားမှတ်ချက်ဖြင့် ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ အဆိုပါ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန်ကိစ္စနှင့်ပတ်သက်၍ တိုင်းဒေသကြီး အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

( ရဲမြင့် )
ဝန်ကြီးချုပ်

မိတ္တူကို

လှည့်လည်စာတွဲ / ရုံးလက်ခံ။

MOECAF

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
# ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၂/၂၂၀ (ခ) (၆) / ( ၁၂၉၄ / ၂၀၁၄)
ရက်စွဲ ၂၀၁၄ ခုနှစ် ၊ ဇူလိုင်လ ၂၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်တင်ပြခြင်း</u>

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂-၇-၂၀၁၄ ရက်စွဲပါစာအမှတ်- ရက - ၆ (က) / မ - ၁၄၃၀ / ၂၀၁၄ (၆၈၀၉)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ Imperial Palace Hotel Co., Ltd သို့ မန္တလေးတိုင်းဒေသကြီး၊ ညောင်ဦးခရိုင်၊ ပုဂံမြို့၊ ဂန့်ဝေါရပ်ကွက်၊ ဟိုတယ်ဇုန် (၄)၊ ကွင်းအမှတ် (၁၅၅၈)၊ ဂန့်ဝေါအနောက်ကွင်း ဦးပိုင်အမှတ်-N-1 ၊ ၁၊ ၂၊ ၃၊ ၅၊ ၆၊ ၇၊ ၉၊ ၄/၁၊ ၄/၂၊ ၄/၃၊ ၈/၂၊ ၈/၃ ရှိ (၅၅)ဧက ကို ငှားရမ်းကာ ဘန်ဂလိုပုံစံ ကြယ်ငါးပွင့်အဆင့် ဟိုတယ်လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ စီစစ်ပြီး အဆိုပြုမြေနေရာတွင် လုပ်ငန်းဆောင်ရွက်ရန် သင့်/မသင့် နှင့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှု ရှိ/မရှိ စသည့်အချက်များအပေါ် ဌာနဆိုင်ရာသဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံခွင့်လျှောက်ထားခြင်း၊ ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်၊ တည်ဆောက်မည့်ကာလမှာ (၃)နှစ်ဖြစ်၍ ဆောက်လုပ်မည့်ဟိုတယ်မှာ ကြယ်ငါးပွင့်အဆင့် ဟိုတယ်၊ ဘန်ဂလိုပုံစံ အခန်း(၂၀၁)ခန်းပါရှိကြောင်း၊ မြေငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)၊ တည်ဆောက်/ လုပ်ငန်းလုပ်ကိုင်/ လွှဲပြောင်းရေး ပဋိညာဉ်စာချုပ် (မူကြမ်း)၊ မြေပုံမိတ္တူ၊ ဆောက်လုပ်မည့် အဆောက်အဦပုံစံ၊ မီးဘေးကြိုတင်ကာကွယ်ရေးအစီအစဉ်၊ ဝန်ထမ်းများလုပ်ငန်းခွင်သာယာရေးနှင့် သက်သာချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အမှိုက်များကို စနစ်တကျစုဆောင်းသိမ်းဆည်း၍ သက်ဆိုင်ရာဌာနများမှ ခွင့်ပြုသည့်နည်းလမ်းများအတိုင်း စွန့်ပစ်မည်ဖြစ်ကြောင်း၊ စိမ်းလန်းစိုပြည်ရေးအတွက် သစ်ပင်များ စိုက်ပျိုးခြင်း၊ ရေစီးရေလာကောင်းမွန်စေရန် ဆောင်ရွက်ခြင်းများပြုလုပ်မည်ဖြစ်ကြောင်း၊ လုပ်ငန်းလည်ပတ်ခြင်းမှ ရရှိမည့် အသားတင်အမြတ်ငွေမှ (၂%) ကို (Coporate ocial Respon-

sibility-CSR) အဖြစ် အသုံးပြု၍ အမျိုးသားယဉ်ကျေးမှု ထိန်းသိမ်းရေးကိစ္စများတွင် ဦးစားပေး သုံးစွဲသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ ဟိုတယ်တည်ဆောက်ခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် မြေသားများပြုပြင်ဖော်ထုတ်ခြင်းကြောင့် ထွက်ရှိလာသည့် အမှုန်အမွှားများ၊ ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းမှုဖြစ်ပေါ်စေနိုင်ခြင်း၊ လုပ်ငန်းသုံးစက်နှင့် ယာဉ်ယန္တရားများ၏ ဆူညံသံများကြောင့် အသံညစ်ညမ်းမှုဖြစ်ပေါ်စေနိုင်ခြင်း၊ စွန့်ပစ်ပစ္စည်းများကြောင့် ရေထု၊ လေထု၊ မြေထု ညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ပါသည်။ ဟိုတယ်လုပ်ငန်း လည်ပတ်ချိန်၌ ဟိုတယ်အခန်းများမှ ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုး၊ မိလ္လာရေဆိုးများအား စနစ်တကျစွန့်ပစ်ခြင်းမပြုဘဲ ပတ်ဝန်းကျင်ရှိ မြစ်/ ချောင်း/ အိုင်များအတွင်းသို့ တိုက်ရိုက်စွန့်ပစ်ပါက မြေထုနှင့် ရေထု ညစ်ညမ်းနိုင်ခြင်း၊ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများဖြစ်သည့် စားသောက်ခန်း၊ ဘား၊ မီးဖိုဆောင်မှထွက်ရှိလာမည့် အစားအသောက် အညစ်အကြေးများ၊ ပတ်ဝန်းကျင်တွင် ဆွေးမြေ့ရန်အချိန်ကြာမြင့်သည့် ပလတ်စတစ်နှင့် ကျွတ်ကျွတ်အိတ်ကဲ့သို့ အမှိုက်များအား စနစ်တကျမစွန့်ပစ်ခြင်းကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုများ ဖြစ်ပေါ်နိုင်ကြောင်း စီစစ်တွေ့ရှိရပါသည်။

၄။ ကြယ်ငါးပွင့်အဆင့်မီ ဟိုတယ်တည်ဆောက်လုပ်ငန်း ဆောင်ရွက်ရာတွင် အောက်ဖော်ပြပါအချက်များကို ထည့်သွင်းဆောင်ရွက်ရန် လိုအပ်ပါသည်-

(က) ကြယ်ငါးပွင့်အဆင့်မီ ဟိုတယ်တည်ဆောက်ခြင်းလုပ်ငန်းကို Eco-Friendly အဖြစ် ဖွံ့ဖြိုးတိုးတက်လာစေရေးအတွက် ရေတို၊ ရေရှည် ဆောင်ရွက်ရန် နည်းလမ်းများပါဝင်သည့် စီမံကိန်းများနှင့် အစီအမံများ ရေးဆွဲချမှတ်ဆောင်ရွက်ရန်၊

(ခ) မိလ္လာအညစ်အကြေး စွန့်ထုတ်မှုလုပ်ငန်းစနစ်များ၊ အညစ်အကြေးသန့်စင်မှုလုပ်ငန်းစနစ်များ၊ ရေဆိုးပြန်လည်သန့်စင်မှုလုပ်ငန်းစနစ်များ၊ အစိုင်အခဲ စွန့်ပစ်ပစ္စည်းများ စီမံခန့်ခွဲမှု၊ ရေရယူအသုံးပြုမှုနှင့် ရေစီမံခန့်ခွဲမှုစနစ်များ၊ လေထုညစ်ညမ်းမှု၊ ရေထုညစ်ညမ်းမှုနှင့် အသံဆူညံမှုကာကွယ်ရေး စီမံချက်များ၊ စွမ်းအင်ပြန်လည်သုံးပြုထိန်းသိမ်းရေးစနစ်များ ထည့်သွင်းရေးဆွဲဆောင်ရွက်ရန်၊

(ဂ) အဆိုပြုလုပ်ငန်းရှိ ခြံ၊ မြေ၊ အဆောက်အအုံ၊ မိလ္လာပိုက်၊ ရေဆိုးစွန့်ထုတ်သည့် ပိုက်များအတွင်းမှ အများပြည်သူတို့၏ ကျန်းမာရေးကို ထိခိုက်စေနိုင်သော

အညစ်အကြေး သို့မဟုတ် အနံ့ဆိုးထွက်စေသောအရာကို စီးထွက်စေခြင်း၊ စိမ့်ထွက်စေခြင်း သို့မဟုတ် စွန့်ပစ်ခြင်းမပြုရန်၊

(ဃ) လုပ်ငန်းများမှ ထွက်ရှိသော ရေဆိုးများကို ရေနုတ်မြောင်း၊ မြစ်၊ ချောင်း၊ အင်း၊ အိုင် (သို့) ကန်အတွင်းသို့ စည်ပင်သာယာရေးကော်မတီ နည်းဥပဒေမှ သတ်မှတ်ထားသော စံချိန်စံညွှန်းအထိ သန့်စင်ပြီးမှ စွန့်ထုတ်ရန်၊

(င) ဝန်ဆောင်မှုလုပ်ငန်းမှ ထွက်ရှိလာသော စွန့်ပစ်ပစ္စည်းများအား လျော့နည်းသည်ထက် လျော့နည်းအောင် လျော့ချသောနည်းလမ်း (Reduce)၊ စွန့်ပစ်လိုက်သည့် အမှိုက်များမှ စွန့်ပစ်ပစ္စည်းအချို့အား ပြန်လည်အသုံးပြုသောနည်းလမ်း (Reuse) နှင့် ပြန်လည်ပြုပြင်အသုံးပု၍ရသည့်ပစ္စည်းများအား မူလပုံစံအတိုင်း သို့မဟုတ် နောက်ထပ်ပစ္စည်းပုံစံအသစ်တစ်မျိုးအဖြစ် ပြန်လည်ပြုပြင် သုံးစွဲသော နည်းလမ်း (Recycle) များ အသုံးပြု၍ နေ့စဉ်ထွက်ရှိနေသည့် အမှိုက်ပမာဏ လျော့နည်းလာစေရေးအတွက် စီမံချက် ရေးဆွဲဆောင်ရွက်ရန်၊

(စ) စီမံကိန်းလုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းလမ်းနှင့် အစီအမံများ ထည့်သွင်းဆောင်ရွက်ရန်၊

၅။ သို့ဖြစ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ Imperial Palace Hotel Co., Ltd သို့ မန္တလေးတိုင်းဒေသကြီး၊ ညောင်ဦးခရိုင်၊ ပုဂံမြို့၊ ဂန့်ဂေါရပ်ကွက်၊ ဟိုတယ်ဇုန် (၄)၊ ကွင်းအမှတ် (၁၅၅၈)၊ ဂန့်ဂေါအနောက်ကွင်း ဦးပိုင်အမှတ်-N-1 ၊ ၁၊ ၂၊ ၃၊ ၅၊ ၆၊ ၇၊ ၉၊ ၄/၁၊ ၄/၂၊ ၄/၃၊ ၈/၂၊ ၈/၃ ရှိ (၅၅)ဧက ကို ငှားရမ်းကာ ဘန်ဂလိုပုံစံ ကြယ်ငါးပွင့်အဆင့် ဟိုတယ်လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ အောက်ပါအချက်များကို ထည့်သွင်းလိုက်နာဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထား မှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ကို ဆောင်ရွက်ပြီးမှသာ စိစစ်ခွင့်ပြုရန်၊

(ခ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည်များ စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု စီမံချက် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ စည်ပင်သာယာရေးဥပဒေ၊ နည်းဥပဒေ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီး / ပြည်နယ်အစိုးရအဖွဲ့ နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

( မျိုး ညွှန့် ၊ ရုံး အ ဖွဲ့ မှူး )

မိတ္တူ - ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

- ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ ၁၈၀ ၂၀၁၄/(၂)/ နပတ (၂၇၇၆)

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ ဇူလိုင် လ ၁၇ ရက်။

NPT-068
17.7.2014
M-024
17/7

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂-၇-၂၀၁၄)ရက်စွဲပါစာအမှတ် ရက-၆(က)/မ-၁၄၃၀/၂၀၁၄(၆၈၁၀)

၁။ Imperial palace Hotel Co., Ltd သည် မန္တလေးတိုင်းဒေသကြီး၊ညောင်ဦးခရိုင်၊ ပုဂံမြို့၊ဂန့်ဂေါရပ်ကွက်ဟိုတယ်ဇုန်(၄) ကွင်းအမှတ် (၁၅၅၈) ဂန့်ဂေါအနောက်ကွင်းဦးပိုင်အမှတ်-N-1၊ ၁၊၂၊၃၊၅၊၆၊၇၊၉ ၊ ၄/၁၄/၂၄/၃၈/၁၈/၂၈/၃ ရှိမြေ (၅၅)ဧကကို ငှားရမ်းကာ ဘန်ဂလိုပုံစံကြယ်ငါးပွင့်အဆင့်ဟိုတယ်လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဇော်ဘိုခန့် (အဘ-ဦးမောင်မောင်ဇော်) မှ အဆိုပြုတင်ပြချက်အပေါ် သဘောထားမှတ်ချက်ပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ လက်ရှိအခြေအနေတွင် မြန်မာနိုင်ငံသို့ ကမ္ဘာလှည့်ခရီးသည်များအပါအဝင် နိုင်ငံခြားသားဧည့်သည်များတိုးတက်ဝင်ရောက်လာခြင်းခရီးစဉ်ဒေသအသီးသီးကိုလည်း တိုးတက်လည်ပတ်ခြင်းနှင့် အနာဂတ်ကာလ မျှော်မှန်းချက်အရ ခရီးသည်ပိုမိုရောက်ရှိမည်ဖြစ်သဖြင့် နိုင်ငံခြားသားခရီးသည်များအတွက် ဟိုတယ်နှင့်အခန်းများပိုမိုဖြည့်တင်းပေးရန်လိုအပ်ခြင်းကြောင့် အခန်း (၂၀၁)ခန်းပါ ဟိုတယ်လုပ်ငန်းစီမံကိန်းတည်ဆောက်မည်ဖြစ်သည့်အတွက် ခရီးသွားလုပ်ငန်းဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုမည့် လုပ်ငန်းတစ်ရပ်ဖြစ်ပါသည်။

၃။ သို့ဖြစ်၍ဤဝန်ကြီးဌာနအနေနှင့် ဝန်ဆောင်ခန့်နှုန်းထားများနှင့် ဟိုတယ်လုပ်ငန်းဆိုင်ရာများနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) အခန်းခန့်နှုန်းထားများတွင် 2 Bed Room, Pool Villa (၁) ခန်းလျှင် US$(၅၂၅) (သို့မဟုတ်)မြန်မာငွေကျပ်အနေနှင့်(၅၀၄၀၀၀)၊1Bed Room,Pool Villa (၁) ခန်းလျှင် US$ (၄၂၀)(သို့မဟုတ်)မြန်မာငွေကျပ်အနေနှင့် (၄၀၃၂၀၀)၊1 Bed Room Villa (၁)ခန်း လျှင် US$ (၂၈၀)(သို့မဟုတ်)မြန်မာငွေကျပ်အနေနှင့် (၂၆၈၈၀၀) Deluxe(၁)ခန်းလျှင်US$(၁၄၀)(သို့မဟုတ်) မြန်မာငွေကျပ်အနေနှင့် (၁၃၄၄၀၀) ၊Superior(၁)ခန်းလျှင်US$(၁၀၅)(သို့မဟုတ်) မြန်မာငွေကျပ် အနေနှင့်(၁၀၀၈၀၀) စသည်ဖြင့်နှုန်းများသတ်မှတ်ကောက်ခံမည့်ငှားရမ်းခန့်နှုန်းထားမြင့်မားသည့် အတွက်ဈေးကွက်အခြေအနေကိုသုံးသပ်ခြင်း၊ အသုံးပြုသည့်ပစ္စည်းများနှင့်ဝန်ဆောင်မှုများသည်လျော်ကန်သင့်မြတ်ခြင်းတို့ဖြစ်ရန်လိုအပ်ပါသည်။

(ခ) ယခုအဆိုပြုတင်ပြသော မြေနေရာသည် ကင်းလွတ်ဇရိယာဖြစ်သော်လည်း ပုဂံ၏ပုံရိပ်မပျောက်ပျက်သော အဆောက်အအုံများဖြစ်ရန်လိုအပ်ပါသည်။

(ဂ) Imperial palace Hotel Co., Ltd မှ ဆောင်ရွက်မည့်ဟိုတယ်လုပ်ငန်းအတွက် ပြည်ပမှ တင်သွင်းမည့် ကုန်ပစ္စည်းများ၊ မော်တော်ယာဉ်များအပေါ် အခွန်သက်သာခွင့်မှာ ကော်မရှင်၏အဆုံးအဖြတ်သာရယူရမည်ဖြစ်ပါသည်။

(ဃ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ရရှိပြီးပါက ဟိုတယ်တည်ဆောက်ခွင့်ပြုမိန့်နှင့် လုပ်ငန်းလိုင်စင်များကို ဆက်လက်ရယူဆောင်ရွက်သွားရန် လိုအပ်ပါသည်။

၄။ ယခုအဆိုပြုလာသော ဟိုတယ်တည်ဆောက်မည့်မြေနေရာပါဝင်သည့် မြေဧရိယာသည် ဟိုတယ်လုပ်ငန်းဆောင်ရွက်ရန်အတွက် နိုင်ငံတော်မှဇုန်အဖြစ် ၁၉၉၆ ခုနှစ်က သတ်မှတ်ပေးခဲ့သော်လည်းနောက်ပိုင်းတွင်မန္တလေးတိုင်းအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီသို့ ပြန်လည်လွှဲပြောင်းပေးခဲ့သည့်အတွက်မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့(ယခင်တိုင်းအေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ)၏ ကြီးကြပ်မှုဖြင့် အဆိုပါဇုန် (၄) ကို ဆက်လက်စီမံခန့်ခွဲခဲ့ပါသည်။

၅။ ယခုရင်းနှီးမြှုပ်နှံသူ ဦးဇော်ဘိုခန့်မှ လုပ်ငန်းဆောင်ရွက်ရန် တင်ပြလာသည့် မြေနေရာ (၅၅)ဧကသည်လက်ရှိမြေစာရင်းပုံစံ(၁၀၅)ဖြင့်ဦးလီမြင့်အမည်ပေါက်နေသည့်မြေ(၁၀၃.၇၇) ဧကတွင် ပါဝင်နေခြင်း၊ ယင်းနေရာ၌ ဟိုတယ်ဆောင်ရွက်ခွင့်ပြုရန် ဦးလီမြင့်မှ တင်ပြထားခြင်းရှိခဲ့သည့်အတွက် မြေပိုင်ဆိုင်မှုရှင်းလင်းရန်လိုအပ်ပါသည်။ ထို့အတွက် ယင်းမြေပိုင်ဆိုင်မှုနှင့်စပ်လျဉ်း၍ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားမှတ်ချက်ရယူသင့်ကြောင်းအကြံပြုပြန်ကြားအပ်ပါသည်။

( ဦးဌေးအောင် )

ပြည်ထောင်စုဝန်ကြီး

မိတ္တူကို-

- ရုံးလက်ခံ
- မျှော

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ယဉ်ကျေးမှုဝန်ကြီးဌာန
**ဝန်ကြီးရုံး**

စာအမှတ်၊ ၂ / ၃ - ၁၉ / ၂၀၁၄ (၄၆၂၃ )
ရက်စွဲ၊ ၂၀၁၄ခုနှစ်၊ ဩဂုတ်လ ၁၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ် (၃၂)၊ နေပြည်တော်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃.၇.၂၀၁၄) ရက်စွဲပါစာအမှတ်၊ ရက-၆(က)/မ-၁၄၃၀/ ၂၀၁၄(၆၉၂၄ ဆ)

၁။ မန္တလေးတိုင်းဒေသကြီး၊ ညောင်ဦးခရိုင်၊ ညောင်ဦးမြို့နယ်၊ ပုဂံမြို့၊ ဂန့်ဝေါရပ်ကွက်၊ ဟိုတယ်ဇုန်(၄)၊ ကွင်းအမှတ်(၁၅၅၈)၊ ဂန့်ဝေါအနောက်ကွင်း၊ ဦးပိုင်အမှတ်-N-1 ၁၊ ၂၊ ၃၊ ၅၊ ၆၊ ၇၊ ၉၊ ၄/၁၊ ၄/၂၊ ၄/၃၊ ၈/၁၊ ၈/၂၊ ၈/၃)ရှိ မြေ(၁၅)ဧကကို Imperial Palace Hotel Co.Ltd မှ ရင်းနှီးမြှုပ်နှံသူ ဦးဇော်ဘိုခန့် (အဘ-ဦးမောင်မောင်ဇော်)က ငှားရမ်း၍ ဘန်ဂလိုပုံစံ ကြယ်ငါးပွင့်အဆင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်အပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ အဆိုပါ Imperial Palace Hotel Co.Ltdက ငှားရမ်း၍ ဟိုတယ်လုပ်ငန်းဆောင်ရွက်မည့် မြေနေရာသည် ဟိုတယ်ဇုန်(၄)အတွင်းတည်ရှိပြီး ယဉ်ကျေးမှုအမွေအနှစ်ဒေသများကာကွယ်ထိန်းသိမ်းရေးဥပဒေ ပုဒ်မ(၄)အရ သတ်မှတ်ထားသော ပုဂံယဉ်ကျေးမှုအမွေအနှစ်ဒေသဇုန်များနှင့် ကင်းလွတ်သည်ကို စိစစ်တွေ့ရှိရပါကြောင်း ပြန်ကြားအပ်ပါသည်။

11/8/2014

ပြည်ထောင်စုဝန်ကြီး ( ကိုယ်စား )
( အောင်နိုင်မြင့် - ရုံးအဖွဲ့မှူး )

မိတ္တူကို
ဒေါ်စန္ဒာခင်၊ ဒုတိယဝန်ကြီး
ညွှန်ကြားရေးမှူးချုပ်၊ ရှေးဟောင်းသုတေသနနှင့် အမျိုးသားပြတိုက်ဦးစီးဌာန
ရုံးလက်ခံ

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း
**MYANMAR ENGINEERING SOCIETY**
Hlaing Universities' Campus, Hlaing Township, Yangon, Myanmar
Tel : 95-1-519673 ~ 76, Fax : 95-1-519681
E-mail:mes@mptmail.net.mm, Website: www.mes.org.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မအသ / MIC / ၁၀၈၄ / ၂၀၁၄။
ရက်စွဲ ၊ ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ၊ ( ၂၈ ) ရက်။

အကြောင်းအရာ။ ။ **မန္တလေးတိုင်းဒေသကြီး၊ ညောင်ဦးခရိုင်၊ ပုဂံမြို့၊ ဂန့်ဝေါရပ်ကွက်၊ ဟိုတယ်ဇုန်(၄)၊ ကွင်းအမှတ်(၁၅၅၈)၊ ဂန့်ဝေါအနောက်ကွင်းတွင် တည်ဆောက်မည့် ဘန်ဂလိုပုံစံ ကြယ်ငါးပွင့်အဆင့် ဟိုတယ်လုပ်ငန်းဆောင်ရွက်ရန်ကိစ္စ။**

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၄ခုနှစ်၊ ဇူလိုင်လ(၂)ရက် နေ့စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၁၄၃၀/၂၀၁၄ (၆၈၁၁)

၁။ အထက်ဖော်ပြပါအကြောင်းအရာကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ သက်ဆိုင်ရာ Imperial Palace Hotel Co.,Ltd တို့မှ ၂၀၁၄ခုနှစ်၊ဇူလိုင်လ(၂)ရက်စွဲဖြင့် မန္တလေးတိုင်းဒေသကြီး၊ ညောင်ဦးခရိုင်၊ ပုဂံမြို့၊ ဂန့်ဝေါရပ်ကွက်၊ ဟိုတယ်ဇုန်(၄)၊ ကွင်းအမှတ်(၁၅၅၈)၊ ဂန့်ဝေါအနောက်ကွင်းတွင် တည်ဆောက်မည့် ဟိုတယ်အဆောက်အဦနှင့် ပက်သက်သော ပုံစံများနှင့် အသေးစိတ်ဇယားများကို လိုအပ်သော လမ်းညွှန်ချက်များပေးပါရန် တင်ပြခဲ့ပါသည်။

၂။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတွင်ဖွဲ့စည်းထားသော MIC Projects Assessment Committee မှ ယင်းကိစ္စနှင့် ပက်သက်၍ (၇-၇-၂၀၁၄)ရက်နေ့မှ (၂၅-၇-၂၀၁၄) ရက်နေ့အထိ Foundation အပိုင်း၊ Structure အပိုင်း၊ အဆောက်အဦအတွက်အသုံးပြုမည့် ဆောက်လုပ်ရေးပစ္စည်းများကို စိစစ်သုံးသပ်ခဲ့ပါသည်။

၃။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ MIC Projects Assessment Committee အနေဖြင့် ပုဂံမြို့တွင် တည်ဆောက်မည့် Hotel တည်ဆောက်မှုတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရန်နှင့်စံချိန်စံညွှန်းမီ တည်ဆောက်ရေး ပစ္စည်းများအသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

| စဉ် | ပစ္စည်းအမျိုးအမည် | MIC စာအုပ်ပါ အရေအတွက် (Ton) | BQ တွင်ပါဝင်သော အရေအတွက် (Ton) | ထောက်ခံတင်ပြသော အရေအတွက်(Ton) |
|---|---|---|---|---|
| ၁။ | ဘိလပ်မြေ | ၁၃၈၁၁.၃၅ | ၁၄၀၈၃.၁၉ | **၁၃၈၁၁.၃၅** |
| ၂။ | သံချောင်းလုံးရှယ်စုံ | ၃၆၁၇.၂၉ | ၃၇၀၄.၀၀ | **၃၆၁၇.၂၉** |

မှတ်ချက်။ ။(၁) ယခုတင်ပြသောစီမံကိန်းစိစစ်ရာတွင် တင်ပြသောပုံစံ၊ဒီဇိုင်းများသည် အမှန်တကယ်အသေးစိတ်တည်ဆောက်မည့် ပုံစံ၊ဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည်ဆိုပါက ယခုတွက်ချက်ထားသောပစ္စည်းအရေအတွက်များမှာ အမှန်တကယ်သုံးစွဲမည့်အရေအတွက်နှင့် ကွာခြားနိုင်ပါသည်။ သို့အတွက် လိုအပ်ပါက Detail Estimate ရရှိပြီးသည့်အခါတွင် ပြန်လည်စိစစ်မှုများဆောင်ရွက်ရန် လိုအပ်ပါသည်။ (Subject to Check)

(၂) သက်ဆိုင်ရာဝန်ကြီးဌာနမှချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်းလိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(ဝင်းခိုင်)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

မိတ္တူကို- Managing Director, Imperial Palace Hotel Co.,Ltd

- ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- အတွင်းရေးမှူး၊ MIC Projects Assessment Committee
- ရုံးလက်ခံ / မျှောစာတွဲ

မန္တလေးတိုင်း ဒေသကြီး၊ ညောင်ဦးခရိုင်၊ ပုဂံမြို့ ၊ ဝန့်ဂေါရပ်ကွက် ၊ ဟိုတယ်ဇုန် (၄)၊ကွင်းအမှတ် (၁၅၅၈) ၊ဝန့်ဂေါအနောက်ကွင်း ၊ဦးပိုင်အမှတ် - **N-1**၊ ၁၊၂၊၃၊၅၊၆၊၇၊၉၊၄/၁၄/၃၊၈/၁၊ ၈/၂ ၈/၃) ရှိ မြေဧရိယာ (၅၅) ဧကကို ငှားရမ်း၍ **Bagan Resort** ဟိုတယ်လုပ်ငန်းအား

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ အဆိုပြုလွှာ တင်သွင်းခြင်း။

**IMPERIAL PALACE HOTEL COMPANY LIMITED**

**Imperial Palace Hotel Co., Ltd.**

No. 5, Ma Kyee Kyee Street, Sanchaung Township, Yangon, Myanmar.
Ph : 01-525636, 538089, Fax : 539857

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
နေပြည်တော်။

ရက်စွဲ ။ ။ ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ (၁၇) ရက်
စာအမှတ် ။ ။ 009/MIC-BgnRst/2014

**အကြောင်းအရာ ။ ။ မန္တလေး တိုင်းဒေသကြီး ညောင်ဦးခရိုင်၊ ပုဂံမြို့၊ ဝန်ႉဝေါရပ်ကွက်၊ ဟိုတယ်ဇုန် (၄) ကွင်းအမှတ် (၁၅၅၈)၊ ဝန်ႉဝေါအနောက်ကွင်း၊ ဦးပိုင်အမှတ် -N-1၊ ၁၂၃၇၆ရ ၉၄/၁၄/၂၄/၃၈/၁၊ ၈/၂ ၈/၃) ရှိ မြေ ၅၅ ဧကကို ငှါးရမ်းကာ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ Bagan Resort ဟိုတယ် လုပ်ငန်းဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုလွှာ တင်သွင်းခြင်း။**

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့ ၏ ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ (၁၈) ရက်နေ့ စွဲပါစာအမှတ် ရက-၆(က) / ပ-၁၄၃၀၊ ၂၀၁၄ (၁၅၄-ခ)

Imperial Palace Hotel Co., Ltd. မှ ၏ Bagan Resort ဟိုတယ် လုပ်ငန်းအတွက် အဆိုပြုလွှာအပေါ် ရည်ညွှန်းချက်ပါစာနှင့် အညီအောက်ပါအတိုင်း ပြင်ဆင်ပြီးအဆိုပြုလွှာကို ပေးပို့ အပ်ပါသည်။

၁။ မြေအမည်ပေါက် ပိုင်ရှင်ဦးလီမြင့်မှ မြေဂရန် ရရှိရေး လျှောက်ထားသည့် မိတ္တူကိုပူးတွဲတင်ပြပါသည်။

၂။ ပြည်ပမှတင်သွင်းမည့် အောက်ပါပစ္စည်းအမျိုးအစားများကို ဖော်ပြပါဇယားများအရ အသေးစိတ်ဖော်ပြထားပါသည်။

(၁) ဆောက်လုပ်ရေးပစ္စည်းများ - နောက်ဆက်တွဲ ၄-က-၁
(၂) ရေဆိုးသန့် စင်ရေးစနစ် - နောက်ဆက်တွဲ ၄-က-၂
(၃) မီးစက် - နောက်ဆက်တွဲ ၄-က-၃
(၄) Kitchen ware - နောက်ဆက်တွဲ ၄-က-၄

၃။ ပြည်တွင်းမှ ဝယ်ယူမည့် အောက်ပါပစ္စည်းအမျိုးအစားများကို ဖော်ပြပါဇယားများအရ အသေးစိတ်ဖော်ပြထားပါသည်။

(၁) Food and Beverage Accessories - နောက်ဆက်တွဲ ၄-ခ-၁
(၂) House Keeping Accessories - နောက်ဆက်တွဲ ၄-ခ-၂

**Imperial Palace Hotel Co., Ltd.**

No. 5, Ma Kyee Kyee Street, Sanchaung Township, Yangon, Myanmar.
Ph : 01-525636, 538089, Fax : 539857

၄။ နောက်ဆက်တွဲ-၁ ရင်းနှီးမြှုပ်နှံမှု အစီအစဉ်တွင်ပါဝင်သည့် အောက်ပါလုပ်ငန်းများမှာ ကန်ထရိုက် အပ်နှံဆောင်ရွက်ရန် ဖြစ်သဖြင့် လုပ်ငန်းလျှာထားငွေဖြစ်ပြီး ခွင့်ပြုမိန့် ရရှိပြီးချိန်တွင်မှ ကန်ထရိုက်တာ အပြီးသတ်ရွေးချယ်အပ်နှံဆောင်ရွက်သွားမည်ဖြစ်ကြောင်းတင်ပြပါသည်။

(၁) Electrical materials
(၂) Communication and Network
(၃) Security equipment

လေးစားစွာဖြင့်၊



Zaw Bo Khant
Managing Director
Imperial Palace H[illegible]

**Imperial Palace Hotel Co., Ltd.**
No. 5, Ma Kyee Kyee Street, Sanchaung Township, Yangon, Myanmar.
Ph : 01-525636, 538089, Fax : 539857

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
နေပြည်တော်၊

ရက်စွဲ ။ ။ ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ ( ၁၇ ) ရက်
စာအမှတ် ။ ။ 0010/MIC-BgnRst/2014

အကြောင်းအရာ ။ ။Bagan Resort ဟိုတယ် လုပ်ငန်း အတွက် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (EIA) နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (EMP) ရေးဆွဲတင်ပြမည်ဖြစ်ကြောင်း ကတိဝန်ခံချက်ပေးပို့ခြင်း တင်သွင်းခြင်း၊

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့ ၏ ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ (၁၈) ရက်နေ့ စွဲပါစာအမှတ် ရက-၆(က) / ပ-၁၄၃၀၊ ၂၀၁၄ (၁၅၄-ခ)

Imperial Palace Hotel Co., Ltd. မှ ၏ Bagan Resort ဟိုတယ် လုပ်ငန်းအတွက် အဆိုပြုလွှာအပေါ် ရည်ညွှန်းချက်ပါစာအရ **ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း** (EIA) **နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ်** (EMP) **ရေးဆွဲတင်ပြ** နိုင်ရန် Green Myanmar Environmental Services Co.,Ltd အဖွဲ့ အားအပ်နှံထားပြီးဖြစ်ပြီး လုပ်ငန်းအပ်နှံပြီးသည့် အထောက်အထား မိတ္တူကို ပူးတွဲတင်ပြပါသည်။

အစီရင်ခံစာရရှိချိန်တွင်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပေးပို့တင်ပြသွားမည်ဖြစ်ပါကြောင်းနှင့် အစီရင်ခံစာပါ တွေ့ရှိချက် များနှင့် အညီ **ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ်** ကိုပြည့်စွတ်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ကတိပြု တင်ပြ အပ်ပါသည်။

လေးစားစွာဖြင့်

Zaw Bo Khant
Managing Director
Imperial Palace Hotel Co., Ltd.

# Green Myanmar

## Environmental Services Co., Ltd

No.115, Kanaung Min Thar Gyi Road Industrial Zone (1), Hlaing Thar Yar Industrial City, Yangon, Myanmar

Tel: 01-685572, 01-685571, 09-5081451, 09-5122448 E-mail: gmescompany@gmail.com


စာအမှတ် - 001/IPH-GMES/EIA/EMP/2014

ရက်စွဲ ။ ။၂၀၁၄ခုနှစ်၊ စက်တင်ဘာ (၈) ရက်။

သို့

ဉက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**အကြောင်းအရာ။ ။ Imperial Palace Hotel Co., Ltd. ၏ Imperial Palace Hotel စီမံကိန်းအပေါ် လူမှုဘဝပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လေ့လာဆန်းစစ်ခြင်း (Environmental Impact Assessment – EIA) နှင့် လူမှုပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေရန် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan – EMP) ဆောင်ရွက်နေမှု အခြေအနေတင်ပြခြင်း။**

Imperial Palace Hotel Co., Ltd. ၏ မန္တလေးတိုင်းဒေသကြီး၊ ညောင်ဦးခရိုင် ပုဂံမြို့နယ်၊ ဟိုတယ်ဇုန်တွင် အသစ်တည်ဆောက်မည့် Imperial Palace Hotel စီမံကိန်းအပေါ် လူမှုဘဝပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လေ့လာဆန်းစစ်ခြင်း (Environmental Impact Assessment – EIA) နှင့် လူမှုပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေရန် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan – EMP) တို့ကို ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ (၂၀၁၂) အရ လည်းကောင်း၊ အတည်ပြုပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးနည်းဥပဒေများပါ အချက်အလက်များအရ လည်းကောင်း၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ စည်းမျဉ်းများ (၂၀၁၃) အရလည်းကောင်း၊ နိုင်ငံတကာ စံချိန်စံနှုန်းများနှင့်အညီ Green Myanmar Environmental Services Co., Ltd. မှ တာဝန်ယူ လေ့လာသုံးသပ်ပေးလျက်ရှိပါသည်။

အစီရင်ခံစာအပြည့်အစုံကို ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာလ တတိယပတ်တွင် ပေးပို့တင်ပြသွားမည် ဖြစ်ပါကြောင်းတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

2/9/2014

Kyaw Soe Win
Managing Director
Green Myanmar
Environmental Services Co., Ltd.

မိတ္တူကို

- ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
  ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန
- Imperial Palace Hotel Co., Ltd.
- ရုံးလက်ခံ

# Imperial Palace Hotel Co., Ltd.

No. 5, Ma Kyee Kyee Street, Sanchaung Township, Yangon, Myanmar.
Ph : 01-525636, 538089, Fax : 539857


ဉက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
နေပြည်တော်၊

ရက်စွဲ ။ ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ (၁၇) ရက်
စာအမှတ် ။ 0011/MIC-BgnRst/2014

**အကြောင်းအရာ ။** Bagan Resort ဟိုတယ် လုပ်ငန်း အတွက် **အဆိုပြုလွှာနှင့် စပ်လျဉ်း၍** Corporate SocialResponsibility **အစီအစဉ်တင်ပြခြင်း။**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့ ၏ ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ (၁၈) ရက်နေ့ စွဲပါစာအမှတ် ရကဖ-၆(က) / ပ-၀၄၃၀၊ ၂၀၁၄ (၁၅၄-ခ)

Imperial Palace Hotel Co., Ltd. ၏ Bagan Resort ဟိုတယ် လုပ်ငန်းအတွက် အဆိုပြုလွှာပါလုပ်ငန်းမှ အသားတင်အမြတ်ပေါ်တွင် Corporate Social Responsibility **အစီအစဉ်** အတွက် **၂% သုံးစွဲသွားမည်ဖြစ်ပါသည်၊**

အဆိုပါလျာထားငွေ ကို အောက်ပါနယ်ပယ်များတွင် ခွဲဝေသုံးစွဲသွားမည်ဖြစ်ကြောင်းတင်ပြအပ်ပါသည်၊

| စဉ်၊ | လုပ်ငန်း | ရာခိုင်နှုန်း |
|---|---|---|
| ၁။ | ပုဂံဒေသယဉ်ကျေးမှုအမွေအနှစ်များ ထိန်းသိမ်းစောင့်ရှောက်ရေး | ၂၀% |
| ၂။ | ဒေသခံတွင်း ပညာရေး မြှင့်တင်မှုလုပ်ငန်း | ၂၀% |
| ၃။ | ဒေသခံတွင်း ကျန်းမာရေးစောင့်ရှောက်မှုလုပ်ငန်း | ၂၀% |
| ၄။ | ဟိုတယ်နှင့် ဆက်စပ်ဒေသများသို့ လမ်းပန်းဆက်သွယ်ရေးကောင်းမွန်စေရန် လမ်းများ အသစ်ဖောက်လုပ်ခြင်းပြုပြင်ခြင်းလုပ်ငန်း | ၂၀% |
| ၅။ | ပုဂံဒေသ ပတ်ဝန်းကျင် စိမ်းလန်းသာယာရေးလုပ်ငန်းများအတွက် | ၂၀% |

လေးစားစွာဖြင့်

Zaw Bo Khant
Managing Director
Imperial Palace Hotel Co., Ltd.

# Imperial Palace Hotel Co., Ltd.

No. 5, Ma Kyee Kyee Street, Sanchaung Township, Yangon, Myanmar.
Ph : 01-525636, 538089, Fax : 539857


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်

ရက်စွဲ ။ ။ ၂၀၁၄ခုနှစ်၊ စက်တင်ဘာလ (၁၈)ရက်။
စာအမှတ် ။ ။ 012/MIC-BR/2014

<u>အကြောင်းအရာ။</u> ။ မြန်မာနိုင်ငံသားပိုင် **Imperial Palace Hotel Co., Ltd.** မှ မန္တလေး တိုင်းဒေသကြီး၊ ညောင်ဦးခရိုင်၊ ပုဂံမြို့၊ ဂန့်ဂေါရပ်ကွက်၊ ဟိုတယ်ဇုန် (၄) ကွင်းအမှတ် (၁၅၅၈) ဂန့်ဂေါအနောက်ကွင်း ဦးပိုင်အမှတ် **—N-1**၊ ၁၊၂၃၅၆၊ရ၉၄/၁၄/၂၄/၃၈/၁၊ ၈/၂ ၈/၃) ရှိ မြေ ၅၅ ဧကကို ငှါးရမ်းကာ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ Bagan Resort ဟိုတယ် လုပ်ငန်းဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုလွှာ တင်သွင်းခြင်း နှင့် စပ်လျဉ်း၍ ကတိဝန်ခံချက် တင်ပြခြင်း။

အထက်ဖော်ပြပါကိစ္စနှင့်စပ်လျဉ်း၍ Imperial Palace Hotel Co., Ltd. မှ မန္တလေး တိုင်းဒေသကြီး၊ ညောင်ဦးခရိုင်၊ ပုဂံမြို့၊ ဂန့်ဂေါရပ်ကွက်၊ ဟိုတယ်ဇုန် (၄) ကွင်းအမှတ် (၁၅၅၈) ဂန့်ဂေါအနောက်ကွင်း ဦးပိုင်အမှတ် —N-1၊ ၁၊၂၃၅၆၊ရ၉၄/၁၄/၂၄/၃၈/၁၊ ၈/၂ ၈/၃) ရှိ မြေ ၅၅ ဧကကို ငှါးရမ်းကာ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ Bagan Resort ဟိုတယ် လုပ်ငန်းဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုလွှာ တင်သွင်းခြင်း နှင့် စပ်လျဉ်း၍ ဆောက်လုပ်ရေး လုပ်ငန်းများ မြန်မာနိုင်ငံသားပိုင်ကုမ္ပဏီများ အားအပ်နှံဆောင်ရွက်သော ကိစ္စများ တွင် Withholding Tax 2% နှုတ်ယူထားကာ ပြည်တွင်းအခွန်ဦးစီးဌာနသို့ ပေးသွင်းသွားမည်ဖြစ်ကြောင်းကတိပြုပါသည်။

လေးစားစွာဖြင့်

Zaw Bo Khant
Managing Director
Imperial Palace Hotel Co., Ltd.

# Imperial Palace Hotel Co., Ltd.

No. 5, Ma Kyee Kyee Street, Sanchaung Township, Yangon, Myanmar.
Ph : 01-525636, 538089, Fax : 539857


သို့ /

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
<u>နေပြည်တော်။</u>

ရက်စွဲ ။ ။ ၂၀၁၄ ခုနှစ်၊ ဇွန်လ (၂၃)ရက်။
စာအမှတ် ။ ။ 001/MIC-BgnRst/2014

အကြောင်းအရာ ။ ။ မန္တလေး တိုင်းဒေသကြီး ညောင်ဦးခရိုင်၊ ပုဂံမြို့၊ ဝန်း ဝေါရပ်ကွက်၊ ဟိုတယ်ဇုန် (၄) ကွင်းအမှတ် (၁၅၅၈) ဝန်း ဝေါအနောက်တွင်း ဦးပိုင်အမှတ် -N-1၊ ၁၊၂၃၇၆၊ရ၉၄/၁၄/၂၄/၃၈/၁၊ ၈/၂ ၈/၃) ရှိ မြေ ၅၅ ဧကကို ငှါးရမ်းကာ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဟိုတယ် လုပ်ငန်းဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုလွှာ တင်သွင်းခြင်း။

မြန်မာနိုင်ငံသားပိုင် Imperial Palace Co., Ltd. သည် မန္တလေး တိုင်းဒေသကြီး ညောင်ဦးခရိုင်၊ ပုဂံမြို့၊ ဝန်း ဝေါရပ်ကွက်၊ ဟိုတယ်ဇုန် (၄) ကွင်းအမှတ် (၁၅၅၈) ဝန်း ဝေါအနောက်တွင်း ဦးပိုင်အမှတ် -N-1၊ ၁၊၂၃၇၆၊ရ၉၄/၁၄/၂၄/၃၈/၁၊ ၈/၂ ၈/၃) ရှိ မြေ ၅၅ ဧက ကို ငှါးရမ်းကာ မြန်မာနိုင်ငံသား များရင်းနှီး မြှုပ်နှံမှု ဥပဒေအရ ဟိုတယ် လုပ်ငန်းဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုလွှာတင်သွင်းအပ်ပါသည်။

အဆိုပြုလွှာအပေါ် ကနဦးစိစစ်မှုများ ပြုလုပ်နိုင်ရန် အဆိုပြုလွှာမိတ္တူသုံးစုံကို ပါတည်သွင်းပေးပို့ ပါသည်။

လေးစားစွာဖြင့်

ဦးဇော်ဘိုခန့်
မန်းနေးဂျင်းဒါရိုက်တာ

Imperial Palace Hotel Co., Ltd.
No. 5, Ma Kyee Kyee Street, Sanchaung Township, Yangon, Myanmar.
Ph : 01-525636, 538089, Fax : 539857

သို့ /

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
နေပြည်တော်။

ရက်စွဲ ။ ။ ၂၀၁၄ ခုနှစ်၊ ဇွန်လ (၂၃) ရက်
စာအမှတ် ။ ။ 002/MIC-BgnRst/2014

**အကြောင်းအရာ ။ ။ မန္တလေး တိုင်းဒေသကြီး၊ ညောင်ဦးခရိုင်၊ ပုဂံမြို့၊ ဂန့်ဂေါရပ်ကွက်၊ ဟိုတယ်ဇုန် (၄) ကွင်းအမှတ် (၁၅၅၈)၊ ဂန့်ဂေါအနောက်ကွင်း၊ ဦးပိုင်အမှတ် -N-1၊ ၁၊၂၃၅၆ရေ ၉၄/ ၁၄/၂၄/၃၈/၁၊ ၈/၂ ၈/၃) ရှိ မြေ ၅၅ ဧကကို ငှါးရမ်းကာ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ Bagan Resort ဟိုတယ် လုပ်ငန်းဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုလွှာ တင်သွင်းခြင်း။**

၁။ မန္တလေး တိုင်းဒေသကြီး၊ ညောင်ဦးခရိုင်၊ ပုဂံမြို့၊ ဂန့်ဂေါရပ်ကွက်၊ ဟိုတယ်ဇုန် (၄) ကွင်းအမှတ် (၁၅၅၈) ဂန့်ဂေါအနောက်ကွင်း၊ ဦးပိုင်အမှတ် -N-1၊ ၁၊၂၃၅၆ရေ၉၄/၁၄/၂၄/၃၈/၁၊ ၈/၂ ၈/၃) ရှိ မြေ ၅၅ ဧကကို ငှါးရမ်းကာ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ Bagan Resort ဟိုတယ် လုပ်ငန်းဆောင်ရွက်ခွင့် ပြုပါရန် ခွင့်ပြုမိန့် လျှောက်ထားအပ်ပါသည်။

၂။ မြေ ၅၅ ဧကကိုပြုပြင်၍ ဘန်ဂလိုပုံစံ အခန်း (၂၀၁) ခန်းကို ကြယ်ငါးပွင့်အဆင့်အတန်းရည်ရွယ်ကာ ကျပ်သန်းပေါင်း ၁၈၈၆၇ ကျော်နှင့် အမေရိကန်ဒေါ်လာ ၁၁.၂၉ သန်းကျော်ရင်းနှီးမြှုပ်နှံ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၃။ ဝန်ထမ်း ၃၀၀ နီးပါးကို ကြယ်ငါးပွင့်အဆင့် မြန်မာနိုင်ငံသားပိုင် ဟိုတယ်လုပ်ငန်းတွင် အုပ်ချုပ်မှု လုပ်ငန်းပိုင်းဆိုင်ရာ အတွေ့အကြုံကောင်းများရရှိစေကာ၊ ခရီးသွားလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေး၊ ဝန်ထမ်း အရည်အသွေးဖွံ့ဖြိုးရေးတို့အားဖြင့် နိုင်ငံတော်နှင့် ဒေသဖွံ့ဖြိုးရေးကို အထောက်အကူပြုစေမည် ဖြစ်ပါသည်။

၄။ ဤအဆိုပြုလုပ်ငန်းမှာ ယဉ်ကျေးမှုအမွေအနှစ်ဒေသတွင်တည်ရှိလည်ပတ်မည်ဖြစ်သဖြင့် သဘာဝ အလှ နောက်ခံဖြင့် ယဉ်ကျေးမှု အလှအပ ကို ခံစားနိုင်မှု မှာ အရေးကြီးသည့် အလျှောက် ပတ်ဝန်းကျင်

စီမံးလမ်းစိုပြေရေး၊ သဘာဝဝန်းကျင် ထိမ်းသိမ်းစောင့်ရှောက်ရေးနှင့် ခရီးသွားလုပ်ငန်းကြောင့် ယဉ်ကျေးမှု အမွေအနှစ်များ ထိခိုက်မှုမရှိရေး တို့ အတွက် လုံလောက်သည့် အစီအမံများဆောင်ရွက်ထားရှိပါသည်။

၅။ Corporate Social Responsibility အတွက်လည်း ရံပုံငွေအဖြစ် အခွန်ပေးဆောင်ပြီး အမြတ်မှ ၂% လျာထားပြီး ဒေသဖွံ့ဖြိုးရေးအတွက် သက်ဆိုင်ရာနယ်မြေလူထုနှင့် ဆွေးနွေးညှိနှိုင်းကာ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၆။ ကျယ်ဝန်းသည့် မြေပေါ်တွင် ဘန်ဂလိုပုံစံအခန်းများဖြစ်သဖြင့် မီးဘေးအန္တရာယ်ကျရောက်နိုင်မှု နည်းပါးသော်လည်း၊ မီးဘေးကာကွယ် ရေး နှင့် ဝန်ထမ်းနှင့် ဧည့်သည်များလုံခြုံရေးကို အပြည့်အဝ စီမံထားရှိပါသည်။

၇။ ဝန်ထမ်းသက်သာချောင်ချိရေးအတွက် သက်ဆိုင်ရာ ဥပဒေများအရ ခံစားခွင့်များအပြင် သီးသန့် ရန်ပုံငွေဖြင့် ဝန်ထမ်းမိသားစု ကျန်းမာရေး ပညာရေး သာရေး နာရေးကိစ္စများအတွက် ကူညီပံ့ပိုးဆောင်ရွက်သွားပါမည်။

၈။ သို့ပါ၍ မန္တလေး တိုင်းဒေသကြီး၊ ညောင်ဦးခရိုင်၊ ပုဂံမြို့၊ ဝန့်ဝေါရပ်ကွက်၊ ဟိုတယ်ဇုန် (၄)၊ ကွင်းအမှတ် (၁၅၅၈) ဝန့်ဝေါအနောက်ကွင်း၊ ဦးပိုင်အမှတ် -N-1၊ ၁၊၂၃၅၆ရေ၉၄/၁၄/၂၄/၃၈/၁၊ ၈/၂ ၈/၃) ရှိ မြေ ၅၅ ဧကကို ငှါးရမ်းကာ Imperial Palace Hotel Co., Ltd. မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ Bagan Resort ဟိုတယ် လုပ်ငန်းဆောင်ရွက်ခွင့် ခွင့်ပြုမိန့် ကို လေးစားစွာလျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်၊

ဦးဇော်ဘိုခန့်

မန်နေးဂျင်းဒါရိုက်တာ

**Imperial Palace Hotel Co., Ltd.**
No. 5, Ma Kyee Kyee Street, Sanchaung Township, Yangon, Myanmar.
Ph : 01-525636, 538089, Fax : 539857

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
နေပြည်တော်။

ရက်စွဲ ။ ။ ၂၀၁၄ခုနှစ်၊ ဇွန်လ (၂၃)ရက်။
စာအမှတ် ။ ။ 003/MIC-BgnRst/2014

အကြောင်းအရာ။ ။ မန္တလေး တိုင်းဒေသကြီး၊ ညောင်ဦးခရိုင်၊ ပုဂံမြို့၊ ဂန့်ဓေါရပ်ကွက်၊ ဟိုတယ်ဇုန် (၄)၊ ကွင်းအမှတ် (၁၅၅၈)၊ ဂန့်ဓေါအနောက်ကွင်း၊ ဦးပိုင်အမှတ် -N-1၊ ၁၊၂၃၅၆၊ရေ၊ ၄/၁၄/၂၄/၃၈/၁၊ ၈/၂ ၈/၃) ရှိ မြေ ၅၅ ဧကကို ငှါးရမ်းကာ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဟိုတယ် လုပ်ငန်းဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုလွှာ တင်သွင်းခြင်း နှင့် စပ်လျဉ်း၍ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားခြင်း။

မြန်မာနိုင်ငံသားပိုင် Imperial Palace Hotel Co., Ltd. သည် မန္တလေး တိုင်းဒေသကြီး၊ ညောင်ဦးခရိုင်၊ ပုဂံမြို့၊ ဂန့်ဓေါရပ်ကွက်၊ ဟိုတယ်ဇုန် (၄)၊ ကွင်းအမှတ် (၁၅၅၈)၊ ဂန့်ဓေါအနောက်ကွင်း၊ ဦးပိုင်အမှတ် -N-1၊ ၁၊၂၃၅၆၊ရေ၊ ၄/၁၄/၂၄/၃၈/၁၊ ၈/၂ ၈/၃) ရှိ မြေ ၅၅ ဧကကို ငှါးရမ်းကာ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဟိုတယ် လုပ်ငန်းဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုလွှာ တင်သွင်းခြင်း နှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို အောက်ပါ အတိုင်း လျှောက်ထားအပ်ပါသည်။

(၁) လုပ်ငန်းစီးပွားဖြစ်စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၅) နှစ် အထိဝင်ငွေခွန် ကင်းလွတ်ခွင့်၊

(၂) ၎င်းလုပ်ငန်းအား နိုင်ငံတော်မှ အထူးလိုအပ်သော လုပ်ငန်းဖြစ်သည်ဟု သတ်မှတ်ပါက ကော်မရှင်မှ ထပ်မံ သတ်မှတ်ပေးသည့် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်၊

(၃) လုပ်ငန်းတွင် ရရှိသည့် အမြတ်ငွေကို ပြန်လည်ရင်းနှီးမြှုပ်နှံရန် အတွက်သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်၊

(၄) အမှန်တကယ် လိုအပ်၍ ဆောင်ရွက်သည့် လုပ်ငန်းဆိုင်ရာ သုတေသနနှင့်ဖွံ့ဖြိုးရေးလုပ်ငန်းများအတွက် တုန်ကျစရိတ်ကို အခွန်စည်းကြပ်ထိုက်သောငွေမှ နုတ်ပယ်ခွင့်၊

(၅) ဝင်ငွေခွန်ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ် အတွင်းအမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့အရှုံးပေါ်ပေါက်သည့်နှစ်မှ စ၍တစ်ဆက်တည်း သုံးနှစ်အထိ သယ်ယူခုနှိမ်ခွင့်၊

(၆) လုပ်ငန်းတည်ဆောက်မှုအဆင့်သုံးဆင့်အတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ တင်သွင်းသော ယာဉ်၊ ယန္တရား၊ စက်ပစ္စည်း၊ စက်ကရိယာတန်ဆာပလာ၊ အသုံးအဆောင်အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်းအခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးလုံးကို ဖြစ်စေ ကင်းလွတ် ခွင့် သို့မဟုတ် သက်သာခွင့်၊

(၇) ကော်မရှင်၏ခွင့်ပြုချက်ဖြင့် ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံမှုလုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ တင်သွင်းသော ယာဉ်၊ ယန္တရား၊ စက်ပစ္စည်း၊ စက်ကရိယာတန်ဆာပလာ၊ အသုံးအဆောင်အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက် များဖြစ်စေ၊ နှစ်မျိုးလုံးကို ဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်။

လေးစားစွာဖြင့်၊

ဦးဇော်ဘိုခန့်

မန်နေးဂျင်းဒါရိုက်တာ

ပုံစံ (မနသ-၁)

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ
# ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်
# [ ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ဂ ]

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

စာအမှတ်၊ 008/MIC-BgnRst/2014
ရက်စွဲ၊ ၂၀၁၄ခုနှစ်၊ ဇွန်လ (၂၃) ရက်။

ကျွန်တော်/ ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏ -

(က) အမည် - ဦးဇော်ဘိုခန့်

(ခ) အဖအမည် - ဦးမောင်မောင်ဇော်

(ဂ) နိုင်ငံသား,အမျိုးသားမှတ်ပုံတင်အမှတ် - ၁၂/မလမ (နိုင်) ၀၅၉၄၇၄

(ဃ) နေရပ်လိပ်စာ - အမှတ် (၅) မကြီးကြီးလမ်း၊ ကျွန်းတောမြောက်ရပ်ကွက်၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်။

(င) လူမျိုး၊ ဘာသာ - ဗမာ၊ ဗုဒ္ဓ

(စ) အဖွဲ့အစည်း အမည် - Imperial Palace Hotel Co., Ltd.

(ဆ) လုပ်ငန်း အမျိုးအစား - ဟိုတယ်လုပ်ငန်း။

(ဇ) အဖွဲ့အစည်း တည်ရှိရာအရပ် - အမှတ် (၅) မကြီးကြီးလမ်း၊ ကျွန်းတောမြောက်ရပ်ကွက်၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်။

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏ -

(က) အမည် ----------------------------------------

(ခ) အဖအမည် ----------------------------------------

(ဂ) နိုင်ငံသား/ ----------------------------------------

အမျိုးသားမှတ်ပုံတင် ---------------------------------------
အမှတ်

(ဃ) နေရပ်လိပ်စာ ---------------------------------------

(င) လူမျိုး၊ ဘာသာ ---------------------------------------

(စ) အဖွဲ့အစည်း အမည် ---------------------------------------

(ဆ) လုပ်ငန်း အမျိုးအစား ---------------------------------------

(ဇ) အဖွဲ့အစည်းတည်ရှိရာ ---------------------------------------
အရပ် ---------------------------------------

---------------------------------------

(နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း ၂ခုထက်ပိုပါက သီးခြားစာရွက်တွင် ဖော်ပြပူးတွဲရန်)

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား–

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း ---------------------------------

(ခ) ဝန်ဆောင်မှုလုပ်ငန်း – ဟိုတယ်လုပ်ငန်း

(ကုန်ပစ္စည်းအမည် သို့မဟုတ် ဝန်ဆောင်မှုအမျိုးအစားကို ဖော်ပြရန်)

၄။ လုပ်ကိုင်မည့် စီးပွားရေးပုံစံ–

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

..............................................................................................................

(ခ) အဖွဲ့အစည်းနှင့်နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

..............................................................................................................

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

..............................................................................................................

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့်စီးပွားရေးအဖွဲ့အစည်း ပုံသဏ္ဍာန်–

(က) တစ်ဦးတည်းပိုင် ..............................................................

(ခ) ဖက်စပ်၊ အစုစပ်လုပ်ငန်း ..............................................................

(ဂ) လီမိတက်ကုမ္ပဏီ Imperia Palace Hotel Co., Ltd.

(ဃ) သမဝါယမအသင်း ..............................................................

(အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီအများပိုင်ကုမ္ပဏီဟု ဖော်ပြ၍ ထည့်ဝင်မည့်မတည် ငွေရင်း အချိုးအစား၊ စီမံခန့်ခွဲသူ ၊စီမံခန့်ခွဲမည့်သူများ၏ အမည်၊ နေရပ်လိပ်စာများနှင့် ရာထူးတို့ကို ပူးတွဲတင်ပြရန်)

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက–

(က) အစုစပ်တို့က ထည့်ဝင်မည့် အစုငွေအချိုးအစားနှင့် ပမာဏ

..........................................................................................................

(ခ) အကျိုးအမြတ်ခွဲဝေမည့် အချိုးအစား

..........................................................................................................

(ဂ) အစုဝင်များ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များ

..........................................................................................................

(နေရာမလုံလောက်က သီးခြားစာရွက်ဖြင့် ဖော်ပြရန်)။

၇။ သမဝါယမအသင်း၊ လီမိတက်ကုမ္ပဏီဖြစ်ပါက=

(က) ခွင့်ပြုမတည်ငွေရင်း – ကျပ်သန်း ၅၀၀

(ခ) အစုရှယ်ယာ အမျိုးအစား – ကျပ်တစ်သိန်းတန် သာမန်အစုရှယ်ယာ

(ဂ) အစုရှယ်ယာဝင်များက ထည့်ဝင်မည့် အစုရှယ်ယာပမာဏ ကျပ်သန်း ၂၀,၄၃၅ နှင့်
အမေရိကန်ဒေါ်လာ ၉.၆၅ သန်း

(ခွင့်ပြုမိန့်ရရှိသည့် အခါ မတည်ငွေရင်းကို တိုးမြှင့်ရန် လျှောက်ထားဆောင်ရွက်သွားမည်ဖြစ်ပါသည်။)

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သော အချက်အလက်များ–

(က) မတည်ငွေရင်းပမာဏ

| | | မတည်ငွေ(ကျပ်) | (အမေရိကန်ဒေါ်လာ) | စုစုပေါင်းညီမျှသောကျပ် 1 US$= 960 K |
|---|---|---|---|---|
| (၁) | မြေယာပြုပြင်ခြင်း | ၅၀၀,၀၀၀,၀၀၀ | | ၅၀၀,၀၀၀,၀၀၀ |
| (၂) | ဆောက်လုပ်ရေးစရိတ် (နောက်ဆက်တွဲ ၂၊ ၃၊ ၄-၁ နှင့် ၄-၂) | ၁၈,၀၈၅,၆၅၁,၆၅၉ | ၆,၁၂၄,၅၃၀ | ၂၃,၉၆၅,၂၀၀,၁၈၄ |
| (၃) | လုပ်ငန်းသုံးကရိယာများ (နောက်ဆက်တွဲ ၄-၃ နှင့် ၄-၄) | ၈၅၀,၀၀၀,၀၀၀ | ၂,၂၀၀,၀၀၀ | ၂,၉၆၂,၀၀၀,၀၀၀ |
| (၄) | လုပ်ငန်းသုံးမော်တော်ယာဉ်များ (နောက်ဆက်တွဲ ၄-၅) | | ၆၃၅,၀၀၀ | ၆၀၉,၆၀၀,၀၀၀ |
| (၄) | ဒီဇိုင်းနှင့်ပစ္စည်းဝယ်ယူရေးအတိုင်ပင်ခံ | | ၅၀၀,၀၀၀ | ၄၈၀,၀၀၀,၀၀၀ |
| (၅) | လည်ပတ်ငွေရင်း | ၁,၀၀၀,၀၀၀,၀၀၀ | ၂၀၀,၀၀၀ | ၁,၁၉၂,၀၀၀,၀၀၀ |
| | | ၂၀,၄၃၅,၆၅၁,၆၅၉ | ၉,၆၅၉,၅၃၀ | ၂၉,၇၀၈,၈၀၀,၁၈၄ |

